ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ခွင့်ပြုမိန့်

ပုံစံ (မနသ-၂)
စာအမှတ်............
ရက်စွဲ............
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ခွင့်ပြုမိန့်အမှတ်၊ မနသ ၁၀၄၅/ ၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ မတ်လ ၁၉ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးစဝ်ခွန်စံအောင်

(ခ) **အဘအမည်** ဦးစောကြာခိုင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/ လရန (နိုင်) ၀၁၈၄၄၇

(ဃ) **နေရပ်လိပ်စာ** အမှတ်-(၆၂/အေ)၊ အင်းလျားလမ်း၊ ၁၀-ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်) ဒိုင်းမွန်း လိုက်(ဖ်)စတော့(ပ်) ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မြေကွက်အမှတ်(၄၇/၄၈/၅၃)၊မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ရွှေသံလွင်စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ(၁၀.၇၅၇) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၇၂၆၉ သန်း (အမေရိကန် ဒေါ်လာ ၉.၅၄၆ သန်း အပါအဝင် စုစုပေါင်း ကျပ်နှစ်သောင်း ခုနှစ်ထောင့် နှစ်ရာ ခြောက်ဆယ့်ကိုးသန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၅ / ၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် မတ်လ ၁၉ ရက်

၁။ Crystal Diamond Livestock Company Limited(ခရစ်စတယ်(လ်) ဒိုင်းမွန်းလိုက်(ဖ်) စတော့(ပ်) ကုမ္ပဏီ လီမိတက်)သည် မြေကွက်အမှတ်(၄၇/၄၈/၅၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေအကျယ်(၁၀.၇၅၇)ဧကတွင် မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစဝ်ခွန်စံအောင် (အဘ-ဦးစောကြာခိုင်) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြချက်အား ၂၀၁၅ ခုနှစ် မတ်လ ၆ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်)ဒိုင်းမွန်းလိုက်(ဖ်)စတော့(ပ်)ကုမ္ပဏီလီမိတက်) အား မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၀၄၅ /၂၀၁၅ ကို ထုတ်ပေးလိုက် သည်။

၂။ Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်) ဒိုင်းမွန်းလိုက်(ဖ်)စတော့(ပ်)ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က) အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅) နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့် အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းမှ ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့ တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန်သက်သာခွင့်ပြုသည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်းနှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့်အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀ (ဇ) အရ ဝင်ငွေခွန် စည်းကြပ်ရန် အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းစက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည် ပစ္စည်းများအပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်းတွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည) အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံ သည့်လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ဋ) အရ ပြည်ပသို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ်ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၄။ Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်)ဒိုင်းမွန်းလိုက်(ဖ်)စတော့(ပ်)ကုမ္ပဏီလီမိတက်) သည်၎င်း၏ခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ဖော်ပြထားသည့် **ထုတ်လုပ်မှုနှင့်ပြည်တွင်းရောင်းချမှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်) ဒိုင်းမွန်းလိုက်(ဖ်) စတော့(ပ်)ကုမ္ပဏီလီမိတက်)သည်၎င်း၏အဆိုပြုလုပ်ငန်း၏စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်) ဒိုင်းမွန်းလိုက်(ဖ်)စတော့(ပ်)ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေနိုင်ရေးတို့အတွက်ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment-EIA)၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၈။ Crystal Diamond Livestock Company Limited. (ခရစ်စတယ်(လ်) ဒိုင်းမွန်းလိုက်(ဖ်) စတော့(ပ်)ကုမ္ပဏီလီမိတက်) သည် ထုတ်လုပ်မှုနည်းပညာ၊ထုတ်လုပ်မှုအရည်အသွေး၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့်စပ်လျဉ်း၍ အဆိုပြုချက်တွင်တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက် ရမည်။

၉။ Crystal Diamond Livestock Company Limited. (ခရစ်စတယ်(လ်) ဒိုင်းမွန်း လိုက်(ဖ်)စတော့(ပ်)ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန မှ ချမှတ်ထားသော အာဆီယံနိုင်ငံများ၏ သတ်မှတ်ချက်များနှင့်အညီ (Good Manufacturing Practices- GMP) စနစ်အား လိုက်နာဆောင်ရွက် ရမည်။

၁၀။ Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်) ဒိုင်းမွန်း လိုက်(ဖ်)စတော့(ပ်)ကုမ္ပဏီ လီမိတက်)မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၀)၊ ပုဒ်မ၁၉(ဂ) ပါသတ်မှတ်ချက်နှင့်အညီ ဤကော်မရှင်သို့သီးခြား တင်ပြ လျှောက်ထား ရမည်။ ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊အလုပ်အကိုင် နှင့်လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေးပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့်စာရင်းဇယား စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြ ထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၁။ Crystal Diamond Livestock Company Limited(ခရစ်စတယ်(လ်) ဒိုင်းမွန်း လိုက်(ဖ်)စတော့(ပ်)ကုမ္ပဏီလီမိတက်)သည်ဤခွင့်ပြုမိန့်အရထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည် ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကိုတိကျစွာလိုက်နာဆောင်ရွက်ရမည်။ထို့အပြင်ရေသိုလှောင်ကန်၊မီးသတ်ဆေးဘူးများ ကဲ့သို့ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုဆောင်ရွက်ချက်များ ကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများ ပေးရမည်။

၁၂။ Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်) ဒိုင်းမွန်း လိုက်(ဖ်)စတော့(ပ်)ကုမ္ပဏီလီမိတက်)သည်ဤခွင့်ပြုမိန့်အရထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊အခြားသောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာနည်းဥပဒေများ၊ညွှန်ကြားချက်များ၊လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက် ရမည်။ ယင်းသို့ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်) ဒိုင်းမွန်း လိုက်(ဖ်)စတော့(ပ်) ကုမ္ပဏီ လီမိတက်)သည် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၄။ Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်)ဒိုင်းမွန်း လိုက်(ဖ်) စတော့(ပ်)ကုမ္ပဏီ လီမိတက်) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာ ကို ဤခွင့်ပြုမိန့်ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှုအခြေအနေများကို သတ်မှတ်ထားသောပုံစံဇယားများဖြင့် (၃)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံ ရမည်။

၁၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၆။ Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်)ဒိုင်းမွန်း လိုက်(ဖ်)စတော့(ပ်)ကုမ္ပဏီလီမိတက်) သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့်

ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့်စီ မံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၃၂(င)အရ နောင်တွင်မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သောနာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်) နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၂/မ-၂၀၆/၂၀၁၅ ( ၂၂၀-က )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၉ ရက်

**ဖြန့်ဝေခြင်း -**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန

ကန့်သတ်

၄

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာသစ်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှု မြှင့်တင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ၊ Crystal Diamond Livestock Company Limited (ခရစ်စတယ်(လ်) ဒိုင်းမွန်းလိုက်(ဖ်)စတော့(ပ်) ကုမ္ပဏီ လီမိတက်)